بسم الله الرحمن الرحيم

الحمد لله وحده والصلاة والسلام على من لا نبي بعده وعلى آله وصحبه الذين اتبعوا سننه وهديه.

**လေးစားအပ်သော စာရှုသူသို့.....**

စာရှုသူလက်ဝယ်ရှိ ဤ أربعون حديثا في الأخلاق ((နဗီ မှာတမ်း စာရိတ္တလမ်း)) အမည်ရှိ ကျမ်းငယ်သည် ကျွန်ုပ်တို့၏ကျောင်းတော် ဂျာမေ့အဟ်အဂ္ဂရှဖွလ် အူလူးမ် အလ်အစ္စလာမီယာဟ် ကျောင်းတော်မှ ယခုနှစ် အာလေ့မဟ် သင်တန်း ပြီးမြောက်အောင်မြင်ကြမည့် သမီးငယ်လေးများ၏ သမိုင်းမှတ်တိုင် တစ်ရပ်ဖြစ်ပါသည်။

ကျောင်းတော်၏ ဟဒီးဆ်အတန်းပြဆရာတစ်ပါးဖြစ်သော မော်လာနာ မုဖ်သီ နုအ်မားန် (ဖွာ့သေွလ်ဒါရူလ်အူလူးမ်-ကရာချိ)၏ ကြိုးကြပ်မှုဖြင့် စာရိတ္တပိုင်းနှင့် သက်ဆိုင်သည့် ဟဒီးဆ်တော်(၄၀)ကို ကောက်နှုတ် ဘာသာပြန်ဆိုထားခြင်း ဖြစ်ပါသည်။

ဤသည် ကျွန်တော်များကျောင်းတော်အတွင်း အပတ်စဉ်၊ လစဉ် ကလောင်စွမ်းရည်မြှင်တင်ခြင်းဆိုင်ရာ အစီအစဉ်၏ အသီးအပွင့်တစ်ခုဟု တင်စားပါရစေ။ အလ်ဟမ်ဒုလိလ္လာဟ်။

သမီးငယ်လေးများ၏ ဤသောက၊ ဤလက်ရာမွန်တို့ကို ကြည့်ပြီး အနာဂတ်တွင်လည်း အွမ္မသ်ကို မိမိတို့ ကလောင်စွမ်းရည်ဖြင့် အကျိုးပြုလိမ့်မည် ဖြစ်ကြောင်း အရှင်မြတ်ထံတော်ပါးတွင် မုချယုံကြည် မျှော်လင့်မိပါသည်။

စာရှုသူများအနေဖြင့် ဤကျမ်းငယ်ပါ ဟဒီးဆ်တော်များကို နှုတ်တိုက် ကျက်မှတ် အာဂုံဆောင်ကြမည်ဆိုလျှင် ကေယာမသ်နေ့တွင် ကိုယ်တော်မြတ် ﷺ ၏

ရှဖာအသ် (ကြားဝင်အသနားခံပေးခြင်းခံရမည့် အခွင့်ထူးကို) မုချ ဆွတ်ခူးရရှိမည် ဖြစ်ပါသည်။

မြင့်မြတ်တော်မူသော အရှင်မြတ် ဤကြိုးပမ်းမှုကို အထူးလက်ခံ သဘောတူတော်မူပါစေ။ ကျွန်ုပ်တို့ကျောင်းတော်၏ ကော်မတီဝင်များ၊ တာဝန်ခံများ၊ ကျောင်းဆရာ၊ ဆရာမများ၊ ရင်သွေးငယ်လေးများအားလုံးအတွက် ဤကြိုးပမ်းမှုကို နှစ်ဘဝနှစ်ဌာန အောင်မြင်စေရာ အကြောင်းခံအဖြစ် ပြုလုပ်ပေးသနားတော်မူပါစေ။

ဤကျမ်းငယ်ဖြစ်မြောက်ရေးတွင် ကိုယ်တိုင်ကိုယ်ကျ ပါဝင်ခဲ့ကြသည့် အာလေ့မဟ် ကြယ်စင်(၇)စင်းနှင့် အဘက်ဘက်မှ အုပ်တစ်ချုပ် သဲတစ်ပွင့် ပါဝင်ခွင့်ရရှိခဲ့သူခပ်သိမ်းကို အောင်မြင်မှုသရဖူအပေါင်း ဆောင်းနိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။ (အာမီးန်)

**မုဟာမ္မဒ် အာစွင်းမ်**

(နဒ်ဝီ၊အဗ္ဗလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ)

ဟစ်ဂျ်ရီ (၁၄၄၄)ခုနှစ်၊ ရှအ်ဗာန်လ(၉)ရက်

ခရစ်နှစ်(၂၀၂၃)ခုနှစ်၊ မတ်လ

(၂)ရက်(ကြာသပတေးနေ့)

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

# أربعون حديثا في الأخلاق

## بَابٌ : الإخلاص وترك الرياء

عَنْ أَبِي هُرَيْرَةَ رضي الله عنه، قَالَ: قَالَ رَسُولُ اللهِ ﷺ: "قَالَ اللهُ تَبَارَكَ وَتَعَالَى: "أَنَا أَغْنَى الشُّرَكَاءِ عَنِ الشِّرْكِ، مَنْ عَمِلَ عَمَلًا أَشْرَكَ فِيهِ مَعِي غَيْرِي؛ تَرَكْتُهُ وَشِرْكَهُ". ﴿رَوَاهُ مُسْلِمٌ﴾

### ပြစားခြင်းအားစွန့်လွှတ်ထား

*الترجمة* ➲ ဟဇရသ်အဗူဟိုရိုင်ရာ( رضي الله عنه )သခင် ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်မှာ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်မိန့်တော်မူသည်မှာ “ငါအရှင်မြတ်သည် တုဖက်ယှဥ်တွဲသူတို့၏ တုဖက်ယှဥ်တွဲမှုမှ ကင်းစင်တော်မူပေသည်။ အကြင်သူသည် (ကောင်းမှု) ပြုကျင့်ပြီး၊ထိုကောင်းမှုတွင် ငါအရှင်မြတ်နှင့်အတူ အခြားသူတစ်ဦးတစ်ယောက်အား ယှဥ်တွဲမည်ဆိုလျှင် ငါအရှင်သည် ထိုကောင်းမှုပြုကျင့်သူနှင့် ၎င်း၏တုဖက်ယှဥ်တွဲမှုကို စွန့်ပြစ်တော်မူမည်။

## بَابُ: الإحسان

عَنْ أَبِي هُرَيْرَةَ ﵁، عَنِ النَّبِيِّ ﷺ قَالَ: "مَنْ كَانَ يُؤْمِنُ بِاللَّهِ وَالْيَوْمِ الْآخِرِ؛ فَلَا يُؤْذِي جَارَهُ". (متفق عليه)

### ငံ့ညှာထောက်ထား အိမ်နီးခြင်းအား

الترجمة ➲ ဟဇရသ်အဗူဟိုရိုင်ရာ (﵁) သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်မှာ မည်သူမဆို "အလ္လာဟ် အရှင်မြတ်နှင့် ကေယာမတ်နေ့ကို သက်ဝင်ယုံကြည်ပါက မိမိ၏ အိမ်နီးနားခြင်းအား ဒုက္ခမပေးရ"။

عَنْ أَبِي هُرَيْرَةَ ﵁، قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "يَا أَبَا هُرَيْرَةَ، كُنْ وَرِعًا؛ تَكُنْ أَعْبَدَ النَّاسِ، وَكُنْ قَنِعًا؛ تَكُنْ أَشْكَرَ النَّاسِ، وَأَحِبَّ لِلنَّاسِ مَا تُحِبُّ لِنَفْسِكَ؛ تَكُنْ مُؤْمِنًا، وَأَحْسِنْ جِوَارَ مَنْ جَاوَرَكَ؛ تَكُنْ مُسْلِمًا، وَأَقِلَّ الضَّحِكَ؛ فَإِنَّ كَثْرَةَ الضَّحِكِ تُمِيتُ الْقَلْبَ". (أخرجه ابن ماجه، وصحَّحه الألبانيّ)

## ဆင်ယဥ်ချယ်သအပ်သော အလှတရားများ

**الترجمة** ➲ ဟာဇရသ်အဗူဟိုရိုင်ရာ (رضي الله عنه) သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်မှာ “အို... အဗူဟိုရိုင်ရာ... အသင်အပြစ်ရှောင်ကျဥ်သူဖြစ်ပါ၊လူတို့တွင် အေဗာဒသ်အလုပ်ဆုံးသူဖြစ်သွားမည်၊ ပြီးနောက် အသင်ရောင့်ရဲတင်းတိမ်သူဖြစ်ပါ၊လူတို့တွင် ကျေးဇူးအသိတတ်ဆုံးသူ ဖြစ်သွားမည်။မိမိအတွက် နှစ်သက်သော အရာကို အခြားသူအတွက်လည်း နှစ်သက်ပါ၊အသင် မုအ်မင်န် ဖြစ်သွားမည်၊၎င်းနောက် မိမိအိမ်နီးချင်းကို ကောင်းမွန်စွာ ဆက်ဆံပါ၊ အသင် မွတ်စ်လင်မ်ဖြစ်သွားမည်၊၎င်းနောက် အနည်းငယ်သာရယ်ပါ၊ အကြောင်းမှာ များစွာ ရယ်မောခြင်းသည် နှလုံးသားကို သေစေသည်။”

## بَابُ :الإِيْثار

عَنْ عَائِشَةَ رضي الله عنها ، أَنَّهَا قَالَتْ: "دخلت امرأة مَعَهَا اِبْنَتَانِ لَهَا تَسْأَلُ فَلَمْ تَجِدْ عِنْدِىْ شَيْئًا غَيْرَ تَمْرَةٍ ، فَأَعْطَيْتُهَا إِيَّاهَا ، فَقَسَمَتْهَا بَيْنَ اِبْنَتَيْهَا ، وَلَمْ تَأْكُلْ مِنْهَا ، ثُمَّ قَامَتْ ، فَخَرَجَتْ ، فَدَخَلَ النَّبِيُّ ﷺ عَلَيْنَا ، فَأَخْبَرْتُه

فَقَالَ : مَنِ ابْتُلِيَ مِنْ هذِهِ الْبَنَاتِ بِشَيْءٍ كُنَّ لَه سِتْرًا مِنَ النَّارِ .

**أخرجه مسلم**

## မေမေ့မေတ္တာ သဲကိုးဖြာ

الترجمة ➲ ဟာဇရသ်အာအေရှာ( رضي الله عنها )သခင်မ ဆင့်ပြန်ပြောကြား သည်မှာ “အမျိုးသမီးတစ်ဦးသည် တောင်းရမ်းရန်ဝင်ရောက်လာသည်။ ၎င်းနှင့်အတူ သမီးနှစ်ဦးလည်းပါသည်။ ကျွန်မထံတွင်လည်း စွန်ပလွန်သီးတစ်လုံးအပြင် မည်သည့်မျှပေးရန်မရှိ။ သို့ဖြစ်ရာ ထိုစွန်ပလွန်သီးကိုသာသူမအား ပေး လိုက်ပါသည်။ ထိုသူမသည် စွန်ပလွန်သီးကို နှစ်ပိုင်း ပိုင်းကာ မိမိ၏သမီးနှစ်ဦးအား ခွဲဝေပေးလိုက်ပြီး မိမိမှာမူ စားသုံးခြင်း မပြုခဲ့ပေ။ ထို့နောက်သူမသည် ထွက်သွားခဲ့သည်။ ထိုစဥ် ကျွန်မတို့ထံကိုယ်တော်မြတ် ﷺ ကြွမြန်းလာသည်၊ ကျွန်မသည် ကိုယ်တော့်အား အဆိုပါအကြောင်းအရာနှင့်စပ်လျဥ်း၍ ပြောပြခဲ့သည်။ ထိုအခါ ကိုယ်တော်မိန့်တော်မူသည်မှာ အကြင်မည်သူမဆို ဤသမီးများကြောင့် တစ်စုံတစ်ရာ စမ်းသပ်ခြင်းခံရလျှင် ထိုသမီးများသည် ၎င်းသူအဖို့ ဂျဟန္နမ်အပါယ်ငရဲဘုံမှ အကာအကွယ်ဖြစ်သွားပေမည်။”

## بَابٌ: الْجُودُ وَالسَّخَاءُ

عَنْ أَنَسٍ رضي الله عنه، "أَنَّ رَجُلًا سَأَلَ النَّبِيَّ ﷺ غَنَمًا بَيْنَ جَبَلَيْنِ، فَأَعْطَاهُ إِيَّاهُ، فَأَتَى قَوْمَهُ فَقَالَ: أَيْ قَوْمِ، أَسْلِمُوا، فَوَاللهِ إِنَّ مُحَمَّدًا لَيُعْطِي عَطَاءً مَا يَخَافُ الْفَقْرَ، فَقَالَ أَنَسٌ: إِنْ كَانَ الرَّجُلُ لَيُسْلِمُ مَا يُرِيدُ إِلَّا الدُّنْيَا، فَمَا يُسْلِمُ حَتَّى يَكُونَ الْإِسْلَامُ أَحَبَّ إِلَيْهِ مِنَ الدُّنْيَا وَمَا عَلَيْهَا". **أخرجه مسلم**

## အဖြူရောင်နှလုံးသား ရင်ဝယ်ပိုက်ထား

*الترجمة* ➲ ဟဇရေသ်အနက်စ် (رضي الله عنه) သခင်မှဆင့်ပြန်ချက်လာရှိသည်မှာ "လူတစ်ယောက်သည် တမန်တော်မြတ် ﷺ ထံ တောင်နှစ်လုံးကြားမှ ဆိတ်များကို တောင်းခံသည်။ သို့ဖြစ်ရာ ကိုယ်တော်သည် ထိုသူ့အား ဆိတ်များကို ပေးကမ်းတော်မူခဲ့သည်။ ထို့နောက် ၎င်းသူသည် မိမိမျိုးနွယ်စုထံသွား၍ ပြောသည်မှာ အိုးမျိုးနွယ်ဝင် အပေါင်းတို့ အသင်တို့ အစ္စလာမ်သာသနာကို လက်ခံကြလော၊ ကောန်စင်စစ် (တမန်တော်) မိုဟမ္မဒ်သည် ဆင်းရဲမည်ကို မစိုးရိမ်ရသည့်ပေးကမ်းခြင်းမျိုးဖြင့် ချီးမြှင့်တော်မူပေသည်။ ထို့နောက်ဟဇရေသ် အနက်စ် رضي الله عنه မိန့်တော်မူသည်မှာ အကယ်၍ လူတစ်ဦးသည် လောကီကိုသာ ရည်စူးပြီး အစ္စလာမ် သာသနာကို လက်ခံခဲ့မည်ဆိုလျှင် ထိုသူသည်စစ်မှန်သော

မွစ်လင်မ် မဖြစ်နိုင်ပေ။(စစ်မှန်သောမွစ်လင်မ်ဟူသည်) လောကနှင့် လောကရှိအရာအားလုံးထက် အစ္စလာမ်ကို သာပိုချစ်ခင်မြတ်နိုး ရပေမည်။

## بَابُ: الأَمَانَة

عَنْ أَبِي هُرَيْرَةَ رضي الله عنه، قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "أَدِّ الْأَمَانَةَ إِلَى مَنِ ائْتَمَنَكَ، وَلَا تَخُنْ مَنْ خَانَكَ". **أخرجه أبو داود، والترمذي، وصَحَّحَهُ الألبانيّ**

### သစ္စာသမာဓိ ဘာဝမှာရှိ

***الترجمة*** ➲ ဟဇရသ်အဗူဟိုရိုင်ရာ( رضي الله عنه )သခင်ဆင့်ပြန်ခဲ့သည်။ "ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်မှာ အသင့်ကိုယုံကြည်ပြီး အပ်နှံထားသောသူ၏ အပ်နှံပစ္စည်းကို အသင်ပြန်လည်ပေးအပ်ပါ၊ ထို့အပြင် အသင့်အပေါ် အလွဲသုံးစားပြုသူကိုလည်း အသင် သစ္စာမမဲ့ပါနှင့်။

## بَابُ: التّعاوُن

عَنِ ابْنِ عُمَرَ رضي الله عنهما، أَنَّ رَجُلًا جَاءَ إِلَى رَسُولِ اللَّهِ ﷺ، فَقَالَ: يَا رَسُولَ اللَّهِ، أَيُّ النَّاسِ أَحَبُّ إِلَى اللَّهِ؟ وَأَيُّ الْأَعْمَالِ أَحَبُّ إِلَى اللَّهِ عَزَّ وَجَلَّ؟ فَقَالَ رَسُولُ اللَّهِ ﷺ: "أَحَبُّ النَّاسِ إِلَى اللَّهِ أَنْفَعُهُمْ لِلنَّاسِ، وَأَحَبُّ الْأَعْمَالِ إِلَى اللَّهِ سُرُورٌ تُدْخِلُهُ عَلَى مُسْلِمٍ، أَوْ تَكْشِفُ عَنْهُ كُرْبَةً، أَوْ تَقْضِي عَنْهُ دَيْنًا، أَوْ تَطْرُدُ عَنْهُ جُوعًا، وَلَأَنْ أَمْشِيَ مَعَ أَخٍ لِي فِي حَاجَةٍ أَحَبُّ إِلَيَّ مِنْ أَنْ أَعْتَكِفَ فِي هَذَا الْمَسْجِدِ -يَعْنِي مَسْجِدَ الْمَدِينَةِ- شَهْرًا، وَمَنْ كَفَّ غَضَبَهُ؛ سَتَرَ اللَّهُ عَوْرَتَهُ، وَمَنْ كَظَمَ غَيْظَهُ، وَلَوْ شَاءَ أَنْ يُمْضِيَهُ أَمْضَاهُ؛ مَلَأَ اللَّهُ عَزَّ وَجَلَّ قَلْبَهُ أَمْنًا يَوْمَ الْقِيَامَةِ، وَمَنْ مَشَى مَعَ أَخِيهِ فِي حَاجَةٍ حَتَّى أَثْبَتَهَا لَهُ؛ أَثْبَتَ اللَّهُ عَزَّ وَجَلَّ قَدَمَهُ عَلَى الصِّرَاطِ يَوْمَ تَزِلُّ فِيهِ الْأَقْدَامُ". **أخرجه الطبراني في المعجم الأوسط، وحسَّنَهُ الألباني**

## ယိုင်းပင်ကူညီ လက်တွဲညီ

**الترجمة** ➲ ဟာဇရသ်အဗ်ဒွလ်လာဗင်န်အိုမရ် (رضي الله عنهما) သခင်ထံဆင့်ပြန်သည်မှာ "လူတစ်ဦးသည် ကိုယ်တော်မြတ် ﷺ ထံလာရောက် လျှောက်ထားသည်မှာ အိုး ..... အလ္လာဟ်အရှင်မြတ်၏ရစူလ် လူသားတို့အနက် အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် အနှစ်သက်ဆုံးမှာ မည်သူနည်း? ၎င်းနောက် မည်သည့် ကျင့်စဥ်၊ကျင့်ရပ်သည် အလ္လာဟ်အရှင်မြတ်ထံ

တွင် အနှစ်သက်ဆုံးဖြစ်ပါသနည်း? ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်မှာ “လူသားတို့အနက် အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် အနှစ်သက်ဆုံးမှာ လူတို့အား အကျိုးပြုဆုံးသောသူဖြစ်သည်။ ၎င်းနောက် ကျင့်စဉ်၊ ကျင့်ရပ်များအနက် အလ္လာဟ်အရှင်မြတ် ထံတော်ပါးတွင် အနှစ်သက်ဆုံးမှာ မွတ်စ်လင်မ် တစ်ဦးအား ပျော်ရွှင်ဝမ်းမြောက်စေခြင်းဖြစ်သည်။ သို့မဟုတ် ၎င်းသူမှ ဆင်းရဲဒုက္ခကို ဝေးကွာစေမည်၊ သို့မဟုတ် ထိုသူ၏ ကြွေးမြီကို ပေးဆပ်ပေးမည်၊ သို့မဟုတ် ဆာလောင်မွတ်သိပ်မှုကို ပပျောက်စေမည်။ ငါကိုယ်တော်သည် မိမိ ညီနောင်အား လိုအပ်ချက်တစ်စုံတစ်ရာ ဖြည့်ဆည်းပေးခြင်းကို ဤ(မက်စ်ဂျစ်ဒ်ဒေနဗ်ဝီ)ဗလီဝတ်ကျောင်းတော်တွင်တစ်လတာအေ့အ်သေကားဖ်ထိုင်ခြင်းထက်သာပိုနှစ်သက်ပေသည်။ အကြင်သူသည်မိမိဒေါသကို ထိမ်းချုပ်မည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏ အားနည်းချက် ကိုဖုံးအုပ်ပေးတော်မူမည်။ ၎င်းနောက် အကြင်သူသည် မိမိဒေါသအတိုင်းလုပ်နိုင်ပါလျက် မိမိဒေါသကို မျိုသိပ်ခဲ့ပါက ကေယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏ နှလုံးသားတွင် အေးချမ်းမှု ချီးမြှင့်တော်မူမည်။ အကြင်သူသည် မိမိညီနောင် တစ်ဦးနှင့်အတူလိုအပ်ချက်ဖြည့်ဆည်းပေးရန်သွားမည်၊ ပြီးနောက် ၎င်းအား ကူညီဖေးမခဲ့မည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် ဆွေရားသ်(တံတား)ပေါ်တွင် လူတို့၏ခြေများ ယိမ်းယိုင်မည့်နေ့တွင်၎င်း၏ခြေကို မြဲမြံ စေတော်မူမည်။

## بَابٌ : النَّصِيحَة

عَنِ الْحَسَنِ، أَنَّ عُبَيْدَ اللهِ بْنَ زِيَادٍ عَادَ مَعْقِلَ بْنَ يَسَارٍ ﷺ فِي مَرَضِهِ الَّذِي مَاتَ فِيهِ، فَقَالَ لَهُ مَعْقِلٌ: إِنِّي مُحَدِّثُكَ حَدِيثًا سَمِعْتُهُ مِنْ رَسُولِ اللهِ ﷺ، سَمِعْتُ النَّبِيَّ ﷺ يَقُولُ: مَا مِنْ عَبْدٍ اسْتَرْعَاهُ اللَّهُ رَعِيَّةً، فَلَمْ يَحُطْهَا بِنَصِيحَةٍ، إِلَّا لَمْ يَجِدْ رَائِحَةَ الجَنَّةِ". **أخرجه البخاري في صحيحه**

### အကောင်းလိုလား အကြံပြုသူအား

*الترجمة* ➲ ဟဇရသ်ဟစန် (رحمه الله) သခင်ဆင့်ပြန်သည်မှာ ဟဇရသ်အိုဗိုင် ဒွလ်လာဗင်န်ဇေယားဒ်သခင်သည် ဟဇရသ် မအ်ကလ် ဗင်န် ယစား၏ رضي الله عنه သခင်ထံ ၎င်း၏ကွယ်လွန်ရာပါရောဂါအခြေအနေတွင် ရောက်ရှိလာခဲ့သည်။

ထိုအခါ ဟဇရသ်မအ်ကလ်သခင်သည် ၎င်းအား မိန့်သည်မှာ ငါသည် အသင့်အား ကိုယ်တော်မြတ် ﷺ ထံမှ ကြားခဲ့သည့် ဟဒီးဆ်တော်တစ်ရပ်အား ပြောပြမည်၊ အကြင်သူတစ်ဦးအား အလ္လာဟ်အရှင်မြတ်သည် လူတို့တွင် အုပ်ချုပ်မှုကို ချီးမြှင့်တော်မူခဲ့သည်ဖြစ်ရာ ထိုသူသည် မိမိ၏ လက်အောက်ငယ်သားများနှင့် စပ်လျဥ်း၍ အကောင်းလိုလား မပေးခဲ့ပါလျှင် ထိုသူသည် ဂျန္နသ်၏ ရနံ့ကိုပင်ရမည်မဟုတ်ပေ။

## بَابُ: الصبر

عَنْ أَنَسِ بْنِ مَالِكٍ ﷺ، قَالَ: سَمِعْتُ النَّبِيَّ ﷺ يَقُولُ: "إِنَّ اللَّهَ قَالَ: إِذَا ابْتَلَيْتُ عَبْدِي بِحَبِيبَتَيْهِ فَصَبَرَ؛ عَوَّضْتُهُ مِنْهُمَا الْجَنَّةَ. يُرِيدُ عَيْنَيْهِ".

**أخرجه البخاري في صحيحه**

## သီးခံခြင်းတရား လက်ကိုင်ထား

*الترجمة* ➲ ဟဇရသ်အနက်စ် ﷺ ဆင့်ပြန်ပြောဆိုခဲ့သည်။ " ကျွန်ုပ်သည် တမန်တော်မြတ် ﷺ မိန့်ဆိုသည်ကို ကြားခဲ့သည်မှာ မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။ "ငါ အလ္လာဟ်အရှင်မြတ်သည် ငါ၏ကျေးကျွန်အား ၎င်းချစ်ခင်နှစ်သက်ရသည့် အရာနှစ်ခုဖြင့် စမ်းသပ်တော်မူခဲ့ရာ ထိုသူသည် သီးခံမျိုသိပ်ခဲ့မည်ဆိုလျှင် ငါအလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား ထိုအရာနှစ်ခု၏ အစားတွင် ဂျန္နသ်သုခဘုံကို ချီးမြှင့်တော်မူမည်။ ချစ်ခင်နှစ်သက်ရသည့် အရာနှစ်ခုဟူသည် မျက်လုံးနှစ်လုံးကို ဆိုလိုသည်။

## စာနာထောက်ထား သမီးငယ်များအား

عن عُقْبَةَ بْنِ عَامِرٍ الْجُهَنِيِّ رضي الله عنه ، يَقُولُ: سَمِعْتُ رَسُولَ اللَّهِ ﷺ يَقُولُ: "مَنْ كَانَتْ –وَقَالَ مَرَّةً: مَنْ كَانَ– لَهُ ثَلَاثُ بَنَاتٍ، فَصَبَرَ عَلَيْهِنَّ، فَأَطْعَمَهُنَّ وَسَقَاهُنَّ وَكَسَاهُنَّ مِنْ جِدَتِهِ، كُنَّ لَهُ حِجَابًا مِنَ النَّارِ".

**أخرجه ابن ماجه، وصحَّحه الألباني**

*الترجمة* ➲ ဟဇရတ်အိုက်ဗားဟ်ဗင်န်အာမိရ် رضي الله عنه သခင် ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် တမန်တော်မြတ် ﷺ မိန့်တော်မူသည်ကို ကြားသိခဲ့ရသည်မှာ အကြင်သူတစ်ဦးထံတွင် သမီးသုံးဦးရှိမည်။ ထိုသူသည် ထိုသမီးများနှင့် စပ်လျဉ်း၍ မားမားမတ်မတ်ရပ်တည်၍ ကျွေးမွေးခဲ့မည်၊ တိုက်ကျွေးခဲ့မည်။ မိမိ၏ ချမ်းသာကြွယ်ဝမှုနှင့်အညီ (အဝတ်အစား) ဆင်မြန်းပေးခဲ့မည်ဆိုလျှင် ထိုသူမများသည် ၎င်းသူအတွက် ဂျဟန္နမ်အပယ်ငရဲမှ အကာအကွယ်ဖြစ်သွားပေမည်။

## بَابٌ: الحِلْمِ والتَّأَنِّي

عَنْ سَهْلِ بْنِ مُعَاذٍ، عَنْ أَبِيهِ، أَنَّ رَسُولَ اللَّهِ ﷺ قَالَ: "مَنْ كَظَمَ غَيْظًا وَهُوَ قَادِرٌ عَلَى أَنْ يُنْفِذَهُ، دَعَاهُ اللَّهُ عَزَّ وَجَلَّ عَلَى رُءُوسِ الْخَلَائِقِ يَوْمَ الْقِيَامَةِ؛ حَتَّى يُخَيِّرَهُ اللَّهُ مِنَ الْحُورِ الْعِينِ مَا شَاءَ".

**أخرجه ابن ماجه، وأبو داود، وحَسَّنَهُ الألباني**

## ခန္တီတရားရဲ့အစား

*الترجمة* ➲ ဟဇရတ်စဟ်လ်ဗင်န်မိုအားဇ် ﷺ သခင်သည် မိမိ ဖခင်ထံမှ ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ အကြင်သူသည်မိမိဒေါသဖြစ်သည့်အတိုင်း ပြုလုပ်နိုင်ပါလျက်ဒေါသကို မျိုသိပ်ခဲ့မည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား ကေယာမတ်နေ့တွင် ဖန်ဆင်းခံအပေါင်းတို့၏ ရှေ့မှောက်တွင် ခေါ်ယူတော်မူပြီး ကြိုက်နှစ်သက်ရာ ဟူရ်ကညာပျိုများကို ရွေးချယ်စေတော်မူမည်။

## بَابُ : الْعَفْو

عن عَبْدِ اللَّهِ بْنِ عُمَرَ رضي الله عنهما، قَالَ: جَاءَ رَجُلٌ إِلَى النَّبِيِّ ﷺ، فَقَالَ: يَا رَسُولَ اللَّهِ، كَمْ نَعْفُو عَنِ الْخَادِمِ؟ فَصَمَتَ، ثُمَّ أَعَادَ عَلَيْهِ الْكَلَامَ، فَصَمَتَ، فَلَمَّا كَانَ فِي الثَّالِثَةِ، قَالَ: "اعْفُوا عَنْهُ فِي كُلِّ يَوْمٍ سَبْعِينَ مَرَّةً".

**أخرجه أبو داود، وصَحَّحَهُ الألباني**

## ခွင့်လွှတ်ခြင်း နီတိ

*الترجمة* ➲ ဟဇရသ်အဗ်ဒွလ္လာဟ် ဗင်န် အိုမရ် رضي الله عنهما သခင်ဆင့်ပြန် ပြောကြားသည်မှာ လူတစ်ဦးသည် ကိုယ်တော်မြတ် ﷺ ထံလာရောက် လျှောက်ထားသည်၊အို…အလ္လာဟ်အရှင်မြတ်၏ ရစူလ် ကျွန်ုပ်တို့သည် အစေခံအား တစ်ရက်လျှင် မည်မျှ အကြိမ်အရေ ခွင့်လွှတ်ပေးရမည် နည်း? ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်မှာ အသင်သည် နေ့စဉ် အကြိမ်ပေါင်း(၇၀)ခွင့်လွှတ်ပါလေ။

## بَابُ : الرَّحمة

عَنْ سَهْلِ ابْنِ الْحَنْظَلِيَّةِ ﵁ ، قَالَ: مَرَّ رَسُولُ اللَّهِ ﷺ بِبَعِيرٍ قَدْ لَحِقَ ظَهْرُهُ بِبَطْنِهِ، فَقَالَ: "اتَّقُوا اللَّهَ فِي هَذِهِ الْبَهَائِمِ الْمُعْجَمَةِ، فَارْكَبُوهَا صَالِحَةً، وَكُلُوهَا صَالِحَةً". **أخرجه أبو داود، وصَحَّحَهُ الألباني**

### မုဒ်ိတာပွားပါ

*الترجمة* ➲ ဟဇရသ်စဟ်လ် ဗင်န် ဟန်ဇွလီယာ ﵁ သခင် ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ သည် ကုလားအုတ် တစ်ကောင်အနီးမှ ဖြတ်သန်းခဲ့သည်။ ထိုကုလားအုတ်၏ ကျောနှင့်ဝမ်းဗိုက်သည် ကပ်နေသည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်မှာ… "အသင်တို့ ဤစကားမပြောတတ်သည့် ခြေလေးချောင်း သတ္တဝါများနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်။ သို့ဖြစ်ရာ ထို သတ္တဝါများကို ညင်သာစွာ စီးနင်းကြလေကုန်၊ ၎င်းနောက် ကောင်းမွန်စွာ (လှီးဖြတ်၍) စားသုံးကြလေကုန်။

## بَابٌ : السَّماحة

عَنْ جَابِرِ بْنِ عَبْدِ اللَّهِ ﷺ ، أَنَّ رَسُولَ اللَّهِ ﷺ، قَالَ: "رَحِمَ اللَّهُ رَجُلًا سَمْحًا إِذَا بَاعَ، وَإِذَا اشْتَرَى، وَإِذَا اقْتَضَى". **أخرجه البخاري في صحيحه**

## သိမ်မွေ့ညှံ့နူ မိမိအပြု

*الترجمة* ➲ ဟဇရသ် ဂျာဗရ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် ရောင်းဝယ်သည့်အခါတွင်လည်းကောင်း၊ ကြွေးမြီတောင်းဆိုသောအခါတွင် လည်းကောင်း၊ နူးညံ့သိမ်မွေ့သောသူအား အလ္လာဟ် အရှင် သနားတော် မူပါစေ ဟူ၍ ဒိုအာပြုပေးတော်မူခဲ့သည်။

## بَابُ : الرِّفق وترك العنف

عَنْ عَائِشَةَ ﵂، قَالتْ: سَمِعْتُ مِنْ رَسُولِ اللَّهِ ﷺ يَقُولُ فِي بَيْتِي هَذَا: "اللَّهُمَّ مَنْ وَلِيَ مِنْ أَمْرِ أُمَّتِي شَيْئًا، فَشَقَّ عَلَيْهِمْ؛ فَاشْقُقْ عَلَيْهِ، وَمَنْ وَلِيَ مِنْ أَمْرِ أُمَّتِي شَيْئًا، فَرَفَقَ بِهِمْ؛ فَارْفُقْ بِهِ". **أخرجه مسلم**

### သက်ညှာထောက်ထား အွမ္မသ်အား

***الترجمة*** ➲ ဟဇရသ်အာအေရှာ ﵂ သခင်မဆင့်ပြန်ပြောဆိုခဲ့သည်။ ကျွန်မသည် ကိုယ်တော်မြတ် ﷺ မိမိ၏အိမ်တွင် မိန့်တော်မူသည်ကို ကြားသိခဲ့ရသည်မှာ အို...အလ္လာဟ် မည်သူမဆို ကျွန်တော်မျိုး၏ အွမ္မသ် သားများကိုအုပ်ချုပ်ခွင့် အပ်နှင်းခံရမည်။ သို့တစေလည်း ၎င်းတို့အပေါ် ခက်ခဲစေမည်ဆိုလျှင် ၎င်းသူအပေါ်တွင်လည်း ခက်ခဲစေတော်မူပါ။ (ထိုသို့မဟုတ်ဘဲ) အကြင်သူသည် ကျွန်တော်မျိုး၏ အွမ်မသ်သားများ၏ အုပ်ချုပ်မှုတာဝန် နှင့် စပ်လျဥ်း၍ တစ်စုံတစ်ရာ တာဝန်ယူခဲ့ပြီးနောက် ၎င်းတို့နှင့်စပ်လျဥ်း၍ သက်ညှာခဲ့လျှင် အရှင်မြတ်သည်လည်း ထိုသူ့အား သက်ညှာတော်မူပါ။

# بَابُ: الحَيَاء

عَنْ عَبْدِ اللَّهِ بْنِ مَسْعُودٍ ﷺ، قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "اسْتَحْيُوا مِنَ اللَّهِ حَقَّ الحَيَاءِ، قَالَ: قُلْنَا: يَا رَسُولَ اللَّهِ، إِنَّا نَسْتَحْيِي وَالحَمْدُ لِلَّهِ، قَالَ: لَيْسَ ذَاكَ، وَلَكِنَّ الِاسْتِحْيَاءَ مِنَ اللَّهِ حَقَّ الحَيَاءِ: أَنْ تَحْفَظَ الرَّأْسَ وَمَا وَعَى، وَالبَطْنَ وَمَا حَوَى، وَلْتَذْكُرِ المَوْتَ وَالبِلَى، وَمَنْ أَرَادَ الآخِرَةَ؛ تَرَكَ زِينَةَ الدُّنْيَا، فَمَنْ فَعَلَ ذَلِكَ؛ فَقَدْ اسْتَحْيَا مِنَ اللَّهِ حَقَّ الحَيَاءِ". **أخرجه الترمذي في سننه، وحَسَّنَهُ الألباني**

## အရှက်တရား၏ အနှစ်သာရ

**الترجمة** ➲ ဟဇရသ်အဗ်ဒွလ်လာဗင်န်မက်စ်အူးဒ် رضي الله عنه သခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ရှက်၊ ကြောက်၊ ရိုသေထိုက်သည်နှင့် အညီ ရှက်ကြောက်ကြလေကုန်။ ထိုအခါ ကျွန်ုပ်တို့က လျှောက်ထားသည်မှာ အို… အလ္လာဟ်အရှင်မြတ်၏ရစူလ် ကျွန်ုပ်တို့သည် ရှက်ကြပါသည်။ (ချီးမွမ်းထောပနာ ပြုခြင်းအပေါင်းသည် အလ္လာဟ်အရှင်မြတ် အတွက် ဖြစ်ပါသည်။)

ထိုအခါ ကိုယ်တော် ﷺ မိန့်တော်မူသည်မှာ ထို (နှုတ်လျှာဖြင့် ရှက်ကြပါသည်ဟု ပြောဆိုသည့်) အရာကို ဆိုလိုခြင်းမဟုတ်၊ အလ္လာဟ်အရှင်မြတ်ကို ရှက်၊ ကြောက်၊ ရိုသေအပ်သည့်အတိုင်း ရှက်ကြောက်ရိုသေခြင်းဆိုသည်မှာ ဦးခေါင်းနှင့် ၎င်းနှင့် ဆက်စပ်လျက်ရှိသော (နား၊ နှာခေါင်း၊ မျက်လုံး၊ နှုတ်လျှာစသည်တို့ကို အပြစ် ဒုစရိုက်ဖြစ်ခြင်းမှ) ထိန်းသိမ်းခြင်း၊ ဝမ်းဗိုက်၊ ၎င်းနှင့်ဆက်စပ်လျက်ရှိသော (လက်၊ ခြေထောက်၊ နှလုံးသား စသည်တို့ကို အပြစ်ဒုစရိုက်ဖြစ်ခြင်းမှ) ထိမ်းသိမ်းခြင်းတို့ဖြစ်သည်။

ပြီးနောက်သေခြင်းတရားနှင့် (သေပြီးနောက်) ဆွေးမြေ့သွားမည်ကိုလည်း အသင်သတိရပါ။ အကြင်သူသည် နောင်တမလွန်အာခိရေသ်ကို လိုလားပါက လောက၏ပကာသန အလှအပများကိုစွန့်လွှတ်ရမည်။ အကြင်သူသည် ထိုအတိုင်းပြုလုပ်မည်ဆိုလျှင် အမှန်စင်စစ်အလ္လာဟ်အရှင်မြတ်အား ရှက်ကြောက်ရိုသေထိုက်သည့်အတိုင်း ရှက်ကြောက်ရိုသေသူဖြစ်သည်။

## بَابُ: القَناعَة

عَنِ ابْنِ مَسْعُودٍ رضي الله عنه ، قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "مَنْ أَصَابَتْهُ فَاقَةٌ، فَأَنْزَلَهَا بِالنَّاسِ؛ لَمْ تُسَدَّ فَاقَتُهُ، وَمَنْ أَنْزَلَهَا بِاللَّهِ؛ أَوْشَكَ اللَّهُ لَهُ بِالْغِنَى: إِمَّا بِمَوْتٍ عَاجِلٍ، أَوْ غِنًى عَاجِلٍ". **أخرجه أبو داود، وَصَحَّحَهُ الألباني**

### ဆာလောင်မွတ်သိပ်ခြင်းကို ကုစားနည်း

*الترجمة* ➲ ဟဇရသ် အဗ်ဒွလ်လာဗင်န်မက်စ်အူးဒ် رضي الله عنه ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ အကြင်သူသည် ဆာလောင်မွတ်သိပ်ခဲ့မည်။ ပြီးနောက် ထိုဆာလောင်မွတ်သိပ်မှုကို လူတို့အား ချပြခဲ့မည်ဆိုလျှင် ၎င်းသူ၏ ဆာလောင်မွတ်သိပ်မှုသည် ရပ်တန့်သွားမည်မဟုတ်ပေ။သို့သော် အကြင်သူသည် မိမိ၏ ဆာလောင်မွတ်သိပ်မှုကို အလ္လာဟ်အရှင်မြတ်ထံ ဖွင့်ဟတောင်းဆိုမည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် ၎င်းသူအား မကြာမီ ဖူလုံမှုကို ချီးမြှင့်တော်မူမည်။ (ဖူလုံမှုဟူသည်) လတ်တလော ကွယ်လွန်မှုကြောင့်ဖြစ်စေ (သို့) လတ်တလော ကြုံဆုံရသည့် ချမ်းသာကြွယ်ဝမှုကြောင့်ဖြစ်စေ ရရှိနိုင်ပေသည်။

عَنْ عَبْدِ اللهِ بْنِ عَمْرِو بْنِ الْعَاصِ رضي الله عنهما، أَنَّ رَسُولَ اللهِ ﷺ قَالَ: "قَدْ أَفْلَحَ مَنْ أَسْلَمَ، وَرُزِقَ كَفَافًا، وَقَنَّعَهُ اللهُ بِمَا آتَاهُ". **أخرجه مسلم**

## တင်းတိမ်ရောင့်ရဲမှုရဲ့ဆုလာဘ်

***الترجمة*** ➲ ဟဇရသ်အဗ်ဒုလ်လားဗင်နိအမ်ရိုဗ်နိုလ်အားဆွ် رضي الله عنهما သခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ (အောက် အရည်အချင်းရှင်သည်) မုချအောင်မြင်ခဲ့လေပြီ။ ၎င်းသည် အစ္စလာမ် သာသနာကို လက်ခံခဲ့မည်။ ၎င်းနောက် လုံလောက်သောရိဇ္ဇ ချီးမြှင့်ခြင်း ခံရမည်။ ပြီးနောက် အလ္လာဟ်ရှင်မြတ် ချီးမြှင့်တော်မူသော အရာတွင် လည်း အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား ကျေနပ်စေတော်မူမည်။

## بَابٌ: الورع

عَنْ أَبِي هُرَيْرَةَ رضي الله عنه، قَالَ: قَالَ النَّبِيُّ ﷺ: "اشْتَرَى رَجُلٌ مِنْ رَجُلٍ عَقَارًا لَهُ، فَوَجَدَ الرَّجُلُ الَّذِي اشْتَرَى العَقَارَ فِي عَقَارِهِ جَرَّةً فِيهَا ذَهَبٌ، فَقَالَ لَهُ الَّذِي اشْتَرَى العَقَارَ: خُذْ ذَهَبَكَ مِنِّي، إِنَّمَا اشْتَرَيْتُ مِنْكَ الأَرْضَ، وَلَمْ أَبْتَعْ مِنْكَ الذَّهَبَ، وَقَالَ الَّذِي لَهُ الأَرْضُ: إِنَّمَا بِعْتُكَ الأَرْضَ وَمَا فِيهَا، فَتَحَاكَمَا إِلَى رَجُلٍ، فَقَالَ الَّذِي تَحَاكَمَا إِلَيْهِ: أَلَكُمَا وَلَدٌ؟ قَالَ أَحَدُهُمَا:

لِي غُلاَمٌ، وَقَالَ الآخَرُ: لِي جَارِيَةٌ، قَالَ: أَنْكِحُوا الغُلاَمَ الجَارِيَةَ، وَأَنْفِقُوا عَلَى أَنْفُسِهِمَا مِنْهُ وَتَصَدَّقَا". **متفق عليه**

## ပြိုင်စံရှား အရှင့်အကြောင်းတရား

**الترجمة** ➲ ဟဒီရေသ် အဗူဟိုရိုင်ရာ ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ လူတစ်ဦးသည် နောက်လူတစ်ဦးထံမှ မြေကွက်တစ်ကွက် ဝယ်ယူခဲ့သည်။ ထိုဝယ်ယူသူသည် မိမိဝယ်ယူလိုက်သည့်မြေကွက်တွင်ရွှေထည့်ထားသောမြေအိုးတစ်လုံးကိုတွေ့ခဲ့ရသည်။ သို့ဖြစ်ပေရာ ထိုသူသည်မြေကွက်ရောင်းသူအားပြောသည်မှာ ကျွန်ုပ်ထံတွင်ရှိသော အသင့်၏ရွှေကိုအသင်ယူပါ။ ကျွန်ုပ်သည် အသင့်ထံမှမြေကိုသာ ဝယ်ယူခဲ့သည်။ ရွှေကို မဝယ်ခဲ့ပေ။ ထို့နောက် မြေရှင်က ပြောသည်မှာ ကျွန်ုပ်သည် အသင့်အား မြေနှင့်ထိုမြေတွင်ရှိသောအရာအားလုံးကို ရောင်းချခြင်းဖြစ်သည်။ ထိုသို့ဖြင့် ထိုသူနှစ်ဦးသည် လူတစ်ဦးထံတွင် စီရင်ဆုံးဖြတ်မှုခံယူကြသည်။သို့ဖြစ်ပေရာထိုသူနှစ်ဦးအားစီရင်ဆုံးဖြတ်ပေးသောသူက မေးသည်မှာ အသင်တို့နှစ်ဦးတွင် သားသမီးရှိပါသလား? တစ်ဦးကပြောသည်မှာ ကျွန်ုပ်တွင် သားတစ်ယောက်ရှိသည်။ နောက်တစ်ဦးကပြောသည်မှာ ကျွန်ုပ်တွင်သမီးတစ်ဦးရှိသည်။ စီရင်ဆုံးဖြတ်ပေးသူက ပြောသည်မှာ (ထို)သားကို သမီးနှင့်ထိမ်းမြားပေးလိုက်ပါ။ ၎င်းနောက် ထိုရွှေကို ထိုသူနှစ်ဦးအတွက် လှူဒါန်းသုံးစွဲလိုက်ကြပါ။

## بَابٌ : الشّجاعة

عَنْ أَنَسٍ ﷺ،أَنَّ رَسُولَ اللهِ ﷺ أَخَذَ سَيْفًا يَوْمَ أُحُدٍ فَقَالَ: مَنْ يَأْخُذُ مِنِّي هَذَا؟ فَبَسَطُوا أَيْدِيَهُمْ، كُلُّ إِنْسَانٍ مِنْهُمْ يَقُولُ: أَنَا، أَنَا، قَالَ: فَمَنْ يَأْخُذُهُ بِحَقِّهِ؟ قَالَ: فَأَحْجَمَ الْقَوْمُ، فَقَالَ سِمَاكُ بْنُ خَرَشَةَ أَبُو دُجَانَةَ: أَنَا آخُذُهُ بِحَقِّهِ. قَالَ: فَأَخَذَهُ، فَفَلَقَ بِهِ هَامَ الْمُشْرِكِينَ". **أخرجه مسلم**

## ရဲစွမ်းသတ္တိ ဆွဟာဗာတို့မှာရှိ

*الترجمة* ➲ ဟဇရသ် အနက်စ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် အိုဟုဒ် စစ်ပွဲနေ့တွင် ဓါးတစ်ချောင်းကိုယူတော်မူပြီး မိန့်တော်မူသည်မှာ မည်သူသည် ငါကိုယ်တော့်ထံမှ ဤဓါးကို ယူမည်နည်း? ထိုအခါ ဆွဟာဗာသာဝကများသည် မိမိတို့၏ လက်များကို ဖြန့်ကြသည်၊ ပြီးနောက်တစ်ဦးတိုင်းကပြောသည်မှာကျွန်ုပ်ယူမည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်သည်မှာ ဤဓါး၏ တာဝန်ကို မည်သူ ကျေပွန်စွာ ထမ်းဆောင်မည်နည်း? ထိုအခါ လူတို့သည် တိတ်စိတ်သွားကြသည်။ သို့ဖြစ်ပေရာ အဗူဒိုဂျာနာ ခေါ် ဟဇရသ်စေမားက်ဗင်န်ခရာရှာ သခင်က လျှောက်ထားသည်မှာ  ကျွန်ုပ် ဤဓါး၏တာဝန်ကို ကျေပွန်စွာ ထမ်း

ဆောင်ပါမည်။ ပြီးနောက် အဗူဒိဂျာနာသခင်သည် ဓါးကိုယူလိုက်သည်။ ထို့နောက် မွတ်ရှ်ရိက်များ၏ ဦးခေါင်းများကို ခုတ်ထစ်ပေတော့သည်။

## بَابُ: برّ الوالدين

عَنْ أَبِي الدَّرْدَاءِ ﵁ قَالَ: سَمِعْتُ رَسُولَ اللَّهِ ﷺ يَقُولُ: "الْوَالِدُ أَوْسَطُ أَبْوَابِ الْجَنَّةِ، فَحَافِظْ عَلَى وَالِدَيْكَ أَوِ اتْرُكْ".

**أخرجه ابن ماجه، وَصَحَّحَهُ الألباني**

## မိဘကျေးဇူး ဆပ်ဖူးလိုသော်

*الترجمة* ➲ ဟဇရသ်အဗူဒါရ်ဒါ ﵁ သခင်ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် တမန်တော်မြတ် ﷺ မိန့်တော်မူသည်ကို ကြားခဲ့ရသည်မှာ ဖခင်သည် ဂျန္နသ်၏ တံခါးများအနက် ပင်မတံခါးဖြစ်သည်။ သို့ဖြစ်ပေရာ အသင်သည် မိမိမိဘနှစ်ပါးတို့၏ (တာဝန်ဝတ္တရားများကို) ထိမ်းသိမ်းပြီး (ဂျန္နသ်ရယူလိုက ယူလိုက်ပါ။) (သို့) စွန့်လွှတ်လိုက စွန့်လွှတ်ပါ။

## بَابُ: العدل وترك الظّلم

عَنْ عَامِرٍ، قَالَ: سَمِعْتُ أَبِي النُّعْمَانَ بْنَ بَشِيرٍ رضي الله عنهما -وَهُوَ عَلَى الْمِنْبَرِ- يَقُولُ: أَعْطَانِي أَبِي عَطِيَّةً، فَقَالَتْ عَمْرَةُ بِنْتُ رَوَاحَةَ: لاَ أَرْضَى حَتَّى تُشْهِدَ رَسُولَ اللَّهِ ﷺ، فَأَتَى رَسُولَ اللَّهِ ﷺ، فَقَالَ: إِنِّي أَعْطَيْتُ ابْنِي مِنْ عَمْرَةَ بِنْتِ رَوَاحَةَ عَطِيَّةً، فَأَمَرَتْنِي أَنْ أُشْهِدَكَ يَا رَسُولَ اللَّهِ، قَالَ: أَعْطَيْتَ سَائِرَ وَلَدِكَ مِثْلَ هَذَا؟ قَالَ: لاَ، قَالَ: فَاتَّقُوا اللَّهَ، وَاعْدِلُوا بَيْنَ أَوْلاَدِكُمْ، قَالَ: فَرَجَعَ فَرَدَّ عَطِيَّتَهُ". **أخرجه البخاري في صحيحه**

### သား၊သမီးများကြား မျှတမှုထား

*الترجمة* ➲ ဟဇရသ် အာမိရ် رحمه الله သခင်ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် ကျွန်ုပ်၏ဖခင် ဟဇရသ် နိုအ်မာန် ဘင်န် ဗရှီးရ် رضي الله عنهما မင်န်ဗရ်ပေါ်တွင် မိန့်တော်မူသည်ကို ကြားသိခဲ့သည်မှာ ကျွန်ုပ်၏ဖခင်သည် ကျွန်ုပ်အား လက်ဆောင်တစ်ခု ချီးမြှင့်ခဲ့သည်။ (ကျွန်ုပ်၏မိခင်) ဟဇရသ် အမ်ရာ ဘင်န်သေ့ရဝါဟာ သခင်မက " ကျွန်မသည် အသင် (ဤပေးကမ်းမှုနှင့် စပ်လျဉ်း၍) ကိုယ်တော်မြတ် ﷺ သက်သေမပြုသရွေ့ ကျေနပ်မည်မဟုတ်" ဟုဆာရာ၊ ကျွန်ုပ်၏ဖခင်သည်ကိုယ်တော်မြတ် ﷺ ထံ လာ

ရောက် လျှောက်ထားသည်မှာ အို......အလ္လာဟ်အရှင်မြတ်၏ ရစူလ် ကျွန်နုပ်သည် အမ်ရာထံမှ ထွန်းကားခဲ့သော ကျွန်နုပ်၏သားအား လက်ဆောင်တစ်ခုချီးမြှင့်ခဲ့သည်။ ထို့နောက် အမ်ရာက " ကိုယ်တော်မြတ်အား သက်သေထားပေးရန်ကိုလည်း ပူဆာခဲ့သည်။" ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်တော် မူသည်မှာ အသင်သည် အသင့်၏ ကလေးအားလုံးကို ဤကလေးအား ပေးကမ်းသည့် နည်းတူ ပေးကမ်းခဲ့ပါသလော?ထိုအခါ ကျွန်ုပ်၏ဖခင်က မပေးခဲ့ပါဟု လျှောက်ထားသည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်မှာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား အကြောက်တရား ထားကြလေကုန်။ ၎င်းနောက် မိမိတို့၏ သားသမီးများကြားတွင် မျှတစွာ ဆက်ဆံကြလေကုန်။ ဟဇရသ် အာမရ်ကပြောပြသည်မှာ ကျွန်ုပ်၏ ဖခင်သည် မိမိပေးခဲ့သော လက်ဆောင်ကို ပြန်လည်ရယူခဲ့ပေသည်။

## بَابُ: التّواضع وترك الكبر

عَنْ عِيَاضِ بْنِ حِمَارٍ ﵁ ، أَنَّهُ قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "إِنَّ اللَّهَ أَوْحَى إِلَيَّ أَنْ تَوَاضَعُوا، حَتَّى لَا يَبْغِيَ أَحَدٌ عَلَى أَحَدٍ، وَلَا يَفْخَرَ أَحَدٌ عَلَى أَحَدٍ". **أخرجه مسلم**

### မချိုးတည်စေဖို့ ကျင့်စို့

**الترجمة** ➲ ဟာဇရတ်အေရားဇ် ဗင်န် ဟေမားရ် ﵁ ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ " အလ္လာဟ်အရှင်မြတ်က ဝဟီချပေးတော်မူသည်မှာ "အသင်တို့သည် တစ်ဦးနှင့်တစ်ဦး ယဉ်ကျေးသိမ်မွေ့စွာ ဆက်ဆံကြလေကုန်။ အဘယ်မျှတိုင်ဟူမူတစ်ဦးပေါ်တစ်ဦး နိုင်ထက်စီးနင်း မပြုကြနှင့်၊၎င်းနောက် တစ်ဦးပေါ်တစ်ဦး မာန်မာန ထောင်လွှားမှုလည်း မပြုကြနှင့်။

## بَابُ: الصمت

عَنْ عَبْدِ الرَّحْمنِ بنِ الحَارِثِ بْنِ هِشَامٍ، أَنَّ أَبَاهُ الحَارِثَ بنَ هِشَامٍ ﷛ أَخْبَرَهُ، أَنَّهُ قَالَ لِرَسُولِ اللهِ ﷺ: "أَخْبِرْنِي بِأَمْرٍ أَعْتَصِمُ بِهِ، فَقَالَ رَسُولُ اللهِ ﷺ: اِمْلِكْ هَذَا، وَأَشَارَ إِلَى لِسَانِهِ".

**أَخْرَجَهُ الطَّبَرَانِيُّ فِي المُعْجَمِ الكَبِيرِ، وَصَحَّحَهُ الأَلبانِي**

## ထိန်းသိမ်းနှုတ်လျှာ အောင်ကြောင်းဖြာ

*الترجمة* ➲ ဟဇရသ် အဗ်ဒုရ်ရဟ်မားန် ဗင်န် ဟာရစ်စ် ﵀ သခင်သည် မိမိ၏ဖခင် ဟဇရသ်ဟာရစ်စ် ဗင်န် ဟေရှားမ် ﵁ သခင်ထံမှ ဆင့်ပြန်ခဲ့သည်။ ဟဇရသ်ဟာရိဆ် ဗင်န် ဟေရှားမ် ﵁ သည် ကိုယ်တော်မြတ် ﷺ အားလျှောက်ထားသည်မှာ "ကိုယ်တော် ကျွန်တော်မျိုးအား မြဲမြံစွာ ဆုပ်ကိုင်ထားရမည့် ကိစ္စရပ်တစ်ရပ်နှင့် စပ်လျဉ်း၍ ပြောပြပေးသနားတော်မူပါ။" ထိုအခါ ကိုယ်တော်မြတ် ﷺ က နှုတ်လျှာကိုညွှန်ပြတော်မူပြီး အသင်ဤအရာကို ထိန်းသိမ်းပါ။" မိန့်ကြားတော်မူခဲ့သည်။

## بَابُ: ترك الغيبة

عن أنسٍ ﷺ، قَالَ: قَالَ رسولُ اللهِ ﷺ: "لَمَّا عُرِجَ بي مَرَرْتُ بِقَومٍ لَهُمْ أظْفَارٌ مِنْ نُحَاسٍ، يَخْمِشُونَ وُجُوهَهُمْ وَصُدُورَهُمْ؛ فَقُلْتُ: مَنْ هؤُلاءِ يَا جِبرِيلُ؟ قَالَ: هؤُلاءِ الَّذِينَ يَأْكُلُونَ لُحُومَ النَّاسِ، وَيَقَعُونَ فِي أعْرَاضِهِمْ!".

**أخرجه أَبُو داود، وَصَحَّحَهُ الألباني**

## အတင်းအဖျင်းမှ ကင်းရှင်းကြ

*الترجمة* ➲ ဟဇရသ်အနက်စ် ﷺ ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ ငါကိုယ်တော်မြတ်အား (ليلةالإسراء) တွင် (မိုးကောင်းကင်သို့) တက်တော်မူသောအခါ ကြေးလက်သည်းများရှိပြီး ထူးလက်သည်းများဖြင့် မိမိတို့၏ မျက်နှာများနှင့် ရင်ဘက်များကို ကုတ်ခြစ်နေကြသူတို့ အနီးမှ ဖြတ်သန်းခဲ့ရသည်။ထိုအခါ ငါကိုယ်တော်က အို....ဂျိဗ်ရီးလ်၊ ဤသူများသည် မည်သူများ ဖြစ်ကြပါသနည်းဟု မေးမြန်းတော်မူရာ ဂျိဗ်ရီးလ်က ပြောသည်မှာ ဤသူများသည် လူတို့၏ အသားများကို စားသုံးသူများ ဖြစ်ကြသည်။ လူတို့၏ သိက္ခာကို ထိပါးသူများ ဖြစ်ကြသည်။ (ဆိုလိုသည်မှာ လူတို့၏ မကောင်းကြောင်း ပြောသူများ ဖြစ်ကြပေသည်။"ဟု ပြန်လည် လျှောက်ထားခဲ့သည်။

## بَابُ : تركُ الفُحشِ والبذائةِ واللّعن

عَنْ عَبْدِ اللَّهِ بْنِ مَسْعُودٍ ﵁ ، قَالَ: قَالَ رَسُولُ اللهِ ﷺ: "لَيْسَ الْمُؤْمِنُ بِالطَّعَّانِ، وَلاَ اللَّعَّانِ، وَلاَ الفَاحِشِ، وَلاَ البَذِيءِ".

**أخرجه الترمذي في سننه، وَصَحَّحَهُ الألباني**

## မုအ်မင်န့်ဂုဏ်ရည်

**الترجمة** ➲ ဟဇရည်အဗ်ဒွလ်လား ဗင်န် မက်စ်အူးဒ် ﵁ ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ စစ်မှန်သော အီမာန်ရှင် ဟူသည် လူတို့အား ပြစ်တင်ပြော်ဆိုသောသူမဟုတ်၊ ၎င်းနောက် လူတို့အားများစွာကျိမ်ဆဲသော်သူလည်း မဟုတ်၊၎င်းနောက် ရှက်ဖွယ်လုပ်ရပ်များနှင့် ရှက်ဖွယ်စကားပြောဆိုသူလည်း မဟုတ်။ ၎င်းနောက် အရှက်တရား ကင်းမဲ့သူလည်း မဟုတ်ပေ။

عَنْ عَبْدِ اللَّهِ بْنِ عَمْرٍو رضي الله عنهما ، قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "إِنَّ مِنْ أَكْبَرِ الكَبَائِرِ أَنْ يَلْعَنَ الرَّجُلُ وَالِدَيْهِ، قِيلَ: يَا رَسُولَ اللَّهِ، وَكَيْفَ يَلْعَنُ الرَّجُلُ وَالِدَيْهِ؟ قَالَ: يَسُبُّ الرَّجُلُ أَبَا الرَّجُلِ، فَيَسُبُّ أَبَاهُ، وَيَسُبُّ أُمَّهُ".

**أخرجه البخاري في صحيحه**

## အလျှား၊အနံ့မရှိသော်လည်း အသွားအပြန်ရှိသည့် ဆဲဆိုမှု

*الترجمة* ➲ ဟာဇရသ်အဗ်ဒွလ်လား ဗင်န် အမ်ရ် رضي الله عنهما ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ ကေန်မုချ ကြီးလေးသောပြစ်မှုဒုစရိုက်များအနက် အပြစ်ဒုစရိုက်တစ်ခုမှာ လူတစ်ဦးသည် မိမိ မိဘနှစ်ပါးအား ကြိမ်ဆဲခြင်းပင်ဖြစ်သည်။ ထိုအခါ တစ်ဦးတစ်ယောက်က မေးလျှောက်သည်မှာ အို....အလ္လာဟ်အရှင်မြတ်၏ ရစူလ် လူတစ်ဦးသည် မိမိ မိဘနှစ်ပါးအား မည်သို့ကြိမ်ဆဲတော်မူပါသနည်း? ထိုအခါ ကိုယ်တော်မိန့်တော်မူသည်မှာ လူတစ်ဦးသည် အခြားသူတစ်ဦး၏ ဖခင်အား ဆဲရေးတိုင်းထွာခြင်းဖြင့် ထိုသူသည် ၎င်းအား ဆဲရေးတိုင်ထွာသူ၏ ဖခင်ကိုလည်း ဆဲမည်ဖြစ်သည်။ ၎င်းနောက် ထိုသူ၏ မိခင်ကိုလည်း ဆဲမည်ဖြစ်သည်။

## بَابٌ : ترك الجدل والمراء

عَنْ أَبِي أُمَامَةَ ﷺ ، قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "أَنَا زَعِيمٌ بِبَيْتٍ فِي رَبَضِ الْجَنَّةِ لِمَنْ تَرَكَ الْمِرَاءَ؛ وَإِنْ كَانَ مُحِقًّا، وَبِبَيْتٍ فِي وَسَطِ الْجَنَّةِ لِمَنْ تَرَكَ الْكَذِبَ؛ وَإِنْ كَانَ مَازِحًا، وَبِبَيْتٍ فِي أَعْلَى الْجَنَّةِ؛ لِمَنْ حَسَّنَ خُلُقَهُ".

**أخرجه ابن ماجه، وأبو داود، وحَسَّنَهُ الألباني**

## ပြင်မှုရဆင်မှုလှ

***الترجمة*** ➲ ဟဇရတ်အဗူအိုမာမား رضي الله عنه သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ ငါကိုယ်တော်မြတ်သည် မိမိပြိုင်ဖက်ကို အနိုင်ရရန် အခွင့်သာနေလင့်ကစား အငြင်းအခုံပြုမှုကို စွန့်လွှတ်သူအဖို့ ဂျန္နသ်အတွင်း အိမ်တစ်လုံး ချီးမြှင့်ပေးရန် တာဝန်ယူတော်မူသည်။ ထို့နောက် နောက်ပြောင် ကျီဆယ်သောအခါတွင်ပင် မုသားပြောဆိုခြင်းကို စွန့်လွှတ်သူအဖို့ ငါကိုယ်တော်သည် ဂျန္နသ်၏အလယ်တွင် အိမ်တစ်အိမ် ရရှိရန် တာဝန်ယူတော်မူသည်။ မိမိ၏ စာရိတ္တကို ကောင်းမွန်စွာ ပြုပြင်ချယ်သသူအဖို့ ဂျန္နသ်၏အမြင့်မားဆုံးသောနေရာတွင် အိမ်တစ်လုံး ရရှိစေရန် တာဝန်ယူတော်မူ သည်။

## بَابٌ: الصدق والوفاء وترك الكذب

عَنْ بَهْزِ بْنِ حَكِيمٍ، قَالَ: حَدَّثَنِي أَبِي، عَنْ أَبِيهِ ﷺ ، قَالَ: سَمِعْتُ رَسُولَ اللَّهِ ﷺ يَقُولُ: "وَيْلٌ لِلَّذِي يُحَدِّثُ، فَيَكْذِبُ؛ لِيُضْحِكَ بِهِ الْقَوْمَ، وَيْلٌ لَهُ.. وَيْلٌ لَهُ". أخرجه أبو داود، وحَسَّنَهُ الألباني

### မိုးခါးရေစွန်းသော မုသားများ

الترجمة ➲ ဟာဇရသ်ဗဟ်ဇ့ဗ်နို့ဟကီးမ် သခင်သည် မိမိ၏ ဖခင်မှတဆင့် အဖိုးထံမှ ဆင့်ပြန်ခဲ့သည်။ ၎င်းသည် တမန်တော်မြတ် ﷺ မိန့်တော်မူသည်ကို ကြားခဲ့သည်မှာ "လူများအား ရယ်မောပျော်ရွှင်စေရန်အလို့ငှာ လိမ်လည်ပြောဆိုသူအတွက် အပါယ်ငရဲ ရှိသည်။ ၎င်းသူအတွက် အပါယ်ငရဲရှိသည်။ ၎င်းသူအတွက် အပါယ်ငရဲ ရှိသည်ဟူ၍ (၃) ကြိမ်တိုင်တိုင် မိန့်တော်မူခဲ့ပေသည်။

عَنْ عُبَادَةَ بْنِ الصَّامِتِ ﷺ، أَنَّ النَّبِيَّ ﷺ قَالَ: "اضْمَنُوا لِي سِتًّا مِنْ أَنْفُسِكُمْ؛ أَضْمَنْ لَكُمُ الْجَنَّةَ: اصْدُقُوا إِذَا حَدَّثْتُمْ، وَأَوْفُوا إِذَا وَعَدْتُمْ، وَأَدُّوا إِذَا اؤْتُمِنْتُمْ، وَاحْفَظُوا فُرُوجَكُمْ، وَغُضُّوا أَبْصَارَكُمْ، وَكُفُّوا أَيْدِيَكُمْ".

**أخرجه أحمد في مسنده، وصَحَّحَهُ الألباني**

## ဂျန္နသ်သော့တံ (၆) ချောင်း

*الترجمة* ➲ ဟဇရသ်အိုဗာဒဟ်ဗင်နဆ်ဆွာမစ်သ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ အသင်တို့သည် မိမိတို့ဘက်မှ အရာ(၆)ခုကိုတာဝန်ယူကြလေကုန် ၊ငါကိုယ်တော်သည် အသင်တို နှင့်စပ်လျဥ်း၍ ဂျန္နသ်ကို တာဝန်ယူတော်မူမည်။

အသင်တို့ပြောဆိုကြသောအခါ အမှန်ကိုသာပြောဆိုပါ။ (သူတပါးအား) ကတိပေးသောအခါ တည်ကြည်ကြလေကုန်။ အသင်တို့အား ယုံကြည်ပြီးအပ်နှံထားသော ပစ္စည်းများကို ပြန်လည်ပေးဆောင်ကြလေကုန်။ ၎င်းနောက်အသင်တို့၏ အရှက်တန်ဆာများကိုထိန်းသိမ်းကြလေကုန်။ ၎င်းနောက် အသင်တို့၏ မျက်လွှာများကိုလည်း ထိန်းသိမ်းကြလေကုန်။ ၎င်းနောက် မိမိတို့၏ လက်များကိုလည်း (သူတပါးအား ဒုက္ခဖြစ်စေခြင်းမှ) ထိန်းသိမ်းကြလေကုန်။

## بَابُ: ترك التّجسّس وسوء الظّنّ

عَنْ مُعَاوِيَةَ ﵁ ، قَالَ: سَمِعْتُ رَسُولَ اللَّهِ ﷺ يَقُولُ: "إِنَّكَ إِنِ اتَّبَعْتَ عَوْرَاتِ النَّاسِ؛ أَفْسَدْتَهُمْ، أَوْ كِدْتَ أَنْ تُفْسِدَهُمْ".

**أخرجه أبو داود، وصَحَّحَهُ الألباني**

### မသမာသော စုံစမ်းထောက်လှမ်းခြင်းရဲ့ဆိုးကျိုး

**الترجمة** ➲ ဟဇရတ်မိုအာဝိယာ ﵁ သခင်ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် တမန်တော်မြတ် ﷺ မိန့်တော်မူသည်ကို ကြားသိခဲ့ရသည်မှာ အသင်သည် လူတို့၏ အားနည်းချက်များနောက်သို့ လိုက်လျှင် အသင့်အနေနှင့် ၎င်းတို့အား ဖျက်စီးခြင်း ဖြစ်သည်။ (အကြောင်းမှာ ၎င်းတို့သည် မိမိကျူးလွန်သည့် အပြစ်ပေါ်တွင် နောင်တ ရမည့်အစား အတင့်ရဲသွားပေမည်။

## بَابُ: حفظ السّرّ

عَنْ ثَابِتٍ، عَنْ أَنَسٍ ﵁ ، قَالَ: "أَتَى عَلَيَّ رَسُولُ اللَّهِ ﷺ -وَأَنَا أَلْعَبُ مَعَ الْغِلْمَانِ- قَالَ: فَسَلَّمَ عَلَيْنَا، فَبَعَثَنِي إِلَى حَاجَةٍ، فَأَبْطَأْتُ عَلَى

أُمِّي، فَلَمَّا جِئْتُ قَالَتْ: مَا حَبَسَكَ؟ قُلْتُ: بَعَثَنِي رَسُولُ اللَّهِ ﷺ لِحَاجَةٍ، قَالَتْ: مَا حَاجَتُهُ؟ قُلْتُ: إِنَّهَا سِرٌّ، قَالَتْ: لَا تُحَدِّثَنَّ بِسِرِّ رَسُولِ اللَّهِ ﷺ أَحَدًا، قَالَ أَنَسٌ: وَاللَّهِ، لَوْ حَدَّثْتُ بِهِ أَحَدًا لَحَدَّثْتُكَ يَا ثَابِتُ".

**أخرجه مسلم**

## လျှို့ဝှက်ချက်ကို ထိန်းသိမ်းပါ

الترجمة ➲ ဟဇရတ်ဆာဗစ်သ် رضي الله عنه သည် ဟဇရတ်အနက်စ်သခင်မှ တစ်ဆင့် ဆင့်ပြန်ခဲ့သည်။ သခင်ကပြောပြသည်မှာ "တမန်တော်မြတ် ﷺ ကျွန်ုပ်ထံ ရောက်ရှိလာသည်။ သို့ဖြစ်ပေရာ ကိုယ်တော်သည် ကျွန်ုပ်တို့အပေါ် စလာမ်မေတ္တာ ပို့သတော်မူသည်။ ပြီးနောက် ကျွန်ုပ်အား အလုပ်တစ်ခုလုပ်ရန် စေလွှတ်တော်မူခဲ့ သည်။ ကျွန်ုပ်သည် ကျွန်ုပ်၏ မိခင်ထံသို့ နောက်ကြ၍ရောက်ရှိခဲ့သည်။ ထိုအခါ မိခင်က ပြောသည်မှာ အသင်အဘယ့်အတွက်ကြောင့် နောက်ကျသနည်း? ထိုအခါ ကျွန်ုပ်က တမန်တော်မြတ် ﷺ ကအလုပ်တစ်ခုလုပ်ရန် စေလွှတ်ကြောင်း လျှောက်ထားခဲ့သည်။ထိုအခါ မိခင်က မေးမြန်းသည် မှာ ထိုအလုပ်သည် မည်သည့်အလုပ်ဖြစ်သနည်း? ကျွန်ုပ်က ထိုအရာ သည် လျှို့ဝှက်ချက်ဖြစ်သည် ဟု ဖြေကြားလိုက်ရာ ကျွန်ုပ်၏ မိခင်က အသင်သည် ကိုယ်တော်မြတ် ﷺ ၏ လျှို့ဝှက်ချက်အား မည်သူ တစ်ဦး တစ်ယောက်ကိုမျှ မပြောပြလေနှင့် ဟု မိန့်ကြားခဲ့သည်။ ဟဇရတ် အနတ်စ်သခင်မိန့်သည်မှာ ကျွန်ုပ်သည် အကယ်၍ ထိုလျှို့ဝှက်ချက်

အား တစ်ဦးတစ်ယောက်ကို ပြောပြဖို့ရှိလျှင် အသင့်ကိုလည်း မုချ ပြောပြမည် ဖြစ်သည်။

عَنْ مُعَاذِ بْنِ جَبَلٍ ﷺ ، قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "اسْتَعِينُوا عَلَى إِنْجَاحِ الْحَوَائِجِ بِالْكِتْمَانِ؛ فَإِنَّ كُلَّ ذِي نِعْمَةٍ مَحْسُودٌ".

**أخرجه الطبراني في المعجم الأوسط، وصَحَّحَهُ الألباني**

## ဖုံးကွယ်ခြင်းမှသည် အောင်မြင်ခြင်းဆီသို့

*الترجمة* ➲ ဟဇရတ်မိုအားဇ်ဗင်န်ဂျဗလ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ။ အသင်တို့သည် မိမိတို့၏ လိုအပ်ချက်များ အောင်မြင်အထမြောက်စေရန် (မိမိတို့လုပ်ဆောင်မည့် ကိစ္စရပ်များကို) ဖုံးကွယ်မှုဖြင့် အကူအညီရယူကြလေကုန်။ အမှန်စင်စစ် စည်းစိမ် ရရှိသူတိုင်းသည် မနာလို ဝန်တိုခြင်း ခံရပေသည်။

## بَابٌ: ترك مَالاَ يَعني

عَنْ كَعْبِ بْنِ عُجْرَةَ ﷺ ، أَنَّ النَّبِيَّ ﷺ فَقَدَهُ، فَسَأَلَ عَنْهُ، فَقَالُوا: مَرِيضٌ، فَخَرَجَ يَمْشِي حَتَّى أَتَاهُ، فَلَمَّا دَخَلَ عَلَيْهِ، قَالَ: أَبْشِرْ يَا كَعْبُ، فَقَالَتْ أُمُّهُ: هَنِيئًا لَكَ الْجَنَّةُ يَا كَعْبُ، فَقَالَ: مَنْ هَذِهِ الْمُتَأَلِّيَةُ عَلَى اللَّهِ؟

قَالَ: هِيَ أُمِّي يَا رَسُولَ اللَّهِ، قَالَ: مَا يُدْرِيكِ يَا أَمَّ كَعْبٍ؟ لَعَلَّ كَعْبًا قَالَ مَا لَا يَعْنِيهِ، أَوْ مَنَعَ مَا لَا يُغْنِيهِ".

**أخرجه ابنُ أَبِي الدُّنْيَا في الصَّمْتِ، وحَسَّنَهُ الألباني**

## အကျိုးမဲ့စကား ၊ ဝေးစွာရှောင်ကြဉ်

**الترجمة** ➲ ဟဇရသ်ကအဗ် ဗင်န် အိုဂ်ျရာ ﵁ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် သခင့်အား မတွေ့ရသဖြင့် မေးမြန်းတော်မူသောအခါ ဆွဟာဗာသာဝကများက ၎င်းသည် နာမကျန်းဖြစ်နေပါသည်ဟု လျှောက်ထားခဲ့သည်။ထိုအခါ ကိုယ်တော် ﷺ သည် ၎င်းထံသို့ ချေလျင် သွားရောက်ခဲ့သည်။ သခင်နှင့်တွေ့ဆုံချိန် -အို... ကအဗ် အသင် ပျော်ရွှင်ဝမ်းမြောက်လိုက်ပါ။ ထိုအခါ ကအ်ဗ်၏ မိခင်ကပြောသည်မှာ အို....ကအဗ် အသင်ဂျန္နသ်ရရှိမည်ဖြစ်၍ ပျော်ရွှင်လိုက်ပါ။ ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်မှာ အလ္လာဟ်အရှင် မြတ်အပေါ် ကြိမ်ဆိုမှုပြုလိုက်သည့် ဤသူမသည် မည်သူနည်း? ဟဇရသ် ကအဗ် ﵁ သခင်က လျှောက်ထားသည်မှာ ဤသူမသည် ကျွန်ုပ်၏မိခင်ဖြစ်ပါသည်။ ထိုအခါကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်မှာ...

"အို....ကအ်ဗ်၏မိခင် အသင်မ သိရှိပါရဲ့လား? အကယ်၍ ကအဗ်အနေနှင့် အကျိုးမရှိသောစကားပြောခဲ့မည် (သို့) ၎င်းအတွက် ချမ်းသာ ကြွယ်ဝမှု မဖြစ်စေသောအရာကိုပင်(လှူဒါန်းခြင်းမှ)တားမြစ်ခဲ့မည်။ (ဆိုပါက အသင်မ အဘယ်သို့ ပြောဆိုနိုင်မည်နည်း။)

## بَابٌ : ترك الحسد

عَنِ الزُّبَيْرِ بْنِ العَوَّامِ ﷺ ، قَالَ: قَالَ رَسُولُ اللَّهِ ﷺ: "دَبَّ إِلَيْكُمْ دَاءُ الأُمَمِ قَبْلَكُمْ: الحَسَدُ وَالبَغْضَاءُ، هِيَ الحَالِقَةُ، لاَ أَقُولُ: تَحْلِقُ الشَّعَرَ، وَلَكِنْ تَحْلِقُ الدِّينَ، وَالَّذِي نَفْسِي بِيَدِهِ، لاَ تَدْخُلُوا الجَنَّةَ حَتَّى تُؤْمِنُوا، وَلاَ تُؤْمِنُوا حَتَّى تَحَابُّوا، أَفَلاَ أُنَبِّئُكُمْ بِمَا يُثَبِّتُ ذَلِكَ لَكُمْ؟ أَفْشُوا السَّلاَمَ بَيْنَكُمْ".

**أخرجه الترمذي في سننه، وصَحَّحَهُ الألباني**

### အာဂတနှင့်ဝန်တိုစိတ် ပျောက်ဆေး

الترجمة ➲ ဟဇရတ် ဇုဗိုင်းရ်ဗင်န်အောက်ဝ်ဝါးမ် رضي الله عنه သခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ "အသင်တို့၏ အလျင်တွင်ရှိသောမျိုးနွယ်များ၏ရောဂါသည်အသင်တို့ကိုလည်း စွဲကပ်ခဲ့လေပြီ။ ၎င်းမှာ မနာလိုဝန်တိုမှုနှင့် အမုန်းတရားထားခြင်းဖြစ်သည်။

ထိုအရာများသည် ပြောင်စင်အောင် ပြုမည့် အရာများဖြစ်သည်။ ဦးခေါင်းကို ပြောင်စင်အောင်ပြုမည့် အရာဟု ဆိုလိုခြင်းမဟုတ်၊ သို့သော် သာသနာကို ပြောင်စင်အောင်ပြုမည့်အရာများ ဖြစ်သည်။ ငါကိုယ်တော်မြတ်၏ အသက်ကို စိုးပိုင်တော်မူသောအရှင်မြတ်၏ကစမ် အသင်တို့သည် စစ်မှန်သော အီမာန်ရှင်မဖြစ်သရွေ့ ဂျန္နသ်သို့ ဝင်ရောက်ရမည်မဟုတ်ပေ။ ၎င်းနောက် အချင်းချင်း တစ်ဦးကိုတစ်ဦး မချစ်ခင်သရွေ့ စစ်မှန်သော အီမာန်ရှင် မဖြစ်နိုင်ပေ။ ငါကိုယ်တော် အရာတစ်ခုကို ညွှန်ကြားပြသရမည်လော ? ထိုအရာ ကိုပြုလုပ်ခြင်းဖြင့် အသင်တို့တစ်ဦး နှင့်တစ်ဦး ချစ်ခင်လာမည်။

ငါကိုယ်တော်ညွှန်ပြလိုသော ထိုအရာမှာ အချင်းချင်းကြား စလာမ် မေတ္တာ ပွားများစေခြင်း ဖြစ်သည်။

## بَابٌ: ترك الغضب

عَنْ سُلَيْمَانَ بْنِ صُرَدٍ رضي الله عنه ، قَالَ: اسْتَبَّ رَجُلاَنِ عِنْدَ النَّبِيِّ ﷺ، وَنَحْنُ عِنْدَهُ جُلُوسٌ، وَأَحَدُهُمَا يَسُبُّ صَاحِبَهُ، مُغْضَبًا قَدِ احْمَرَّ وَجْهُهُ، فَقَالَ النَّبِيُّ ﷺ: "إِنِّي لَأَعْلَمُ كَلِمَةً، لَوْ قَالَهَا لَذَهَبَ عَنْهُ مَا يَجِدُ، لَوْ قَالَ: أَعُوذُ بِاللَّهِ مِنَ الشَّيْطَانِ الرَّجِيمِ؛ فَقَالُوا لِلرَّجُلِ: أَلاَ تَسْمَعُ مَا يَقُولُ النَّبِيُّ ﷺ؟ قَالَ: إِنِّي لَسْتُ بِمَجْنُونٍ". متفق عليه

## ဒေါသအတွက် အမြိုက်ဆေးတစ်လက်

الترجمة ➲ ဟဇရသ်ဆိုလိုင်မာန်းဗင်န်စိုရက်ဒ် رضي الله عنه သခင်ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်တို့သည် ကိုယ်တော်မြတ် ﷺ ထံတော်ပါးတွင် ထိုင်နေစဥ် ပုဂ္ဂိုလ်နှစ်ဦးသည် တစ်ဦးကိုတစ်ဦး မကောင်းပြောဆိုနေကြသည်။ နှစ်ဦးစလုံးသည်တစ်ဦးကိုတစ်ဦး အမျက်ဒေါသဖြစ်ကာ မျက်နှာများပင် နီမြန်းလာကြသည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်မှာ "မုချ ငါကိုယ်တော်သည် စကားစုတစ်ခုကို သိရှိတော်မူသည်။ အကယ်၍ ထိုသူသည် أعوذ بالله من الشيطان الرجيم ဟူသော စာပိုဒ်အားရွတ်ဖတ်လိုက်မည်ဆိုလျှင် (ထိုသူ၏ ဒေါသ ပပျောက်သွားမည်။) ထိုအခါ လူတို့က " အသင်သည် ကိုယ်တော်မြတ် ﷺ ၏ မိန့်ခွန်းတော်ကို မကြားပါသလော?"ဟု ပြောကြရာ ၎င်းပုဂ္ဂိုလ်က "ကျုပ်က (အဲ့ဒီစာသားဖတ်ရအောင် ရူးနေတာမှ မဟုတ်တာ" ဟု ပြန်လည်ပြောကြားခဲ့သည်။

عَنْ أَبِي هُرَيْرَةَ رضي الله عنه ، أَنَّ رَجُلًا قَالَ لِلنَّبِيِّ ﷺ: أَوْصِنِي، قَالَ: "لاَ تَغْضَبْ؛ فَرَدَّدَ مِرَارًا، قَالَ: لاَ تَغْضَبْ". **أخرجه البخاري في صحيحه**

## ဘ၀လန်းဖို့ နဗီမှာတမ်း

الترجمة ➲ ဟာဇရသ်အဗူဟိုရိုင်ရာ رضي الله عنه သခင် ဆင့်ပြန်ခဲ့သည်။ ပုဂ္ဂိုလ်တစ်ဦးက တမန်တော်မြတ် ﷺ အား "အို…ကိုယ်တော် ကျွန်တော်မျိုးအား မှာတမ်း ဆုံးမတော်မူပါ"ဟု လျှောက်ထားခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ က "အသင် အမျက် ဒေါသ မထွက်လေနှင့်ဟု အကြိမ်ကြိမ် မိန့်ကြားတော်မူသည်။

عَنْ أَبِي هُرَيْرَةَ رضي الله عنه ، أَنَّ رَسُولَ اللَّهِ ﷺ قَالَ: "لَيْسَ الشَّدِيدُ بِالصُّرَعَةِ، إِنَّمَا الشَّدِيدُ الَّذِي يَمْلِكُ نَفْسَهُ عِنْدَ الغَضَبِ". (متفق عليه)

## စွမ်းအားရှင် စစ်စစ်

الترجمة ➲ ဟာဇရသ်အဗူဟိုရိုင်ရာ رضي الله عنه သခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ "အားအင်ရှိသောသူ ဟူသည် သူတစ်ပါးအား မြေပေါ်သို့ လှဲချနိုင်သောသူ မဟုတ်ပေ။ အင်အားရှင်အစစ်မှာ ဒေါသဖြစ်သောအခါ မိမိကိုယ်မိမိ ထိမ်းချုပ်နိုင် သောသူဖြစ်သည်။"

عَنْ أَبِي ذَرٍّ رضي الله عنه ، قَالَ: إِنَّ رَسُولَ اللَّهِ ﷺ قَالَ لَنَا: "إِذَا غَضِبَ أَحَدُكُمْ وَهُوَ قَائِمٌ؛ فَلْيَجْلِسْ، فَإِنْ ذَهَبَ عَنْهُ الْغَضَبُ؛ وَإِلَّا فَلْيَضْطَجِعْ".

**أخرجه أبو داود، وصَحَّحَهُ الألباني**

## ဒေါသကုထုံး

الترجمة ➲ ဟာဇရသ်အဗူဇရ် رضي الله عنه သခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် ကျွန်ုပ်တို့အား မိန့်တော်မူသည်မှာ အသင်တို့အနက် တစ်ဦးတစ်ယောက်သည် မတ်တပ်ရပ်နေစဉ် ဒေါသဖြစ်လာပါက ထိုင်လိုက်ပါ။ ထိုသို့ဖြင့် ဒေါသ ပြေပျောက်သွားမည်။ အကယ်၍ ထိုင်ချလိုက်သော်လည်း ဒေါသမပြေပါ က လှဲလျောင်းလိုက်ပါ။

تمت

အလ်အဟ်ဆာန် AL-AHESARN အစ္စလာမ့်စာပေ ကွန်ပြူတာစာစီစာရိုက် နှင့် အတွင်းအပြင်အဆင်
အနောက်သာယာကုန်းရပ်ကွက်၊ မြစ်ငယ်မြို့။ ၀၉၄၈၀၀၂၃၇၂